ရက်စွဲ။ ၈-၁-၂၀၁၉

Myanmar C.P. Livestock Company Limited မှတင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | | ၁၁-၁၂-၂၀၁၈ | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၄၀/၂၀၁၈ (၁၇-၁၂-၂၀၁၈) | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရသက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခြင်း -ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) | ၁၄-၁၂-၂၀၁၈ | ၂၁-၁၂-၂၀၁၈ | |
| ၄ | အဆိုပြုချက်အပေါ်ပြင်ဆင်တင်ပြရမည့် အချက်များအကြောင်းကြားခြင်း | ၂၄-၁၂-၂၀၁၈ | ၈-၁-၂၀၁၉ | PAT ဆုံးဖြတ်ချက် အကြောင်းကြားပါသည်။ |
| ၅ | အဆိုပြုချက်အားကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁/၂၀၁၉ (၁၁-၁-၂၀၁၉) | | |
| ၆ | ခွင့်ပြုမိန့်ထုတ်ပေးခြင်း | ၁၁-၁-၂၀၁၉ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၃၀) ရက် | | |

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ Processing of Chicken, Pork and Preserving and Sales of Meat လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Myanmar C.P. Livestock Company Limited<br>- Mr. Uthai Tantipimolphan |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Thana Holding Co.,Ltd. (ထိုင်း)-၂၇%<br>Charoen Pokphand Enterprise Co.,Ltd.(ထိုင်း)-၂၅%<br>CPG Enterprise Ltd.(British Virgin Islands)-၄၈% |
| | လုပ်ငန်းအမျိုးအစား | - Processing of Chicken, Pork and Preserving and Sales of Meat |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း) မြို့နယ်၊ အမှတ် (၂) လမ်းနှင့် အမှတ် (၇) လမ်း (မြို့ရှောင်လမ်း) ထောင့်၊ မစို စိုက်ပျိုးမွေးမြူရေးစခန်း |
| ၃။ | မြေပိုင်ရှင် | - ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၊ ပြည်သူ့ကျန်းမာရေး နှင့် ဈေးများလုပ်ငန်း တာဝန်ခံအဖွဲ့ ထုတ်လုပ်ရေးဌာန |
| | မြေအကျယ်အဝန်း | - မြေဧရိယာ (၅၈.၀၄၈ ) ဧက (၂၃၄၉၁၂.၆၅ စတုရန်းမီတာ) |
| | မြေငှားရမ်းခ (တစ်နှစ်လျှင်) | - တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၂.၃ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| ၅။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | - အမေရိကန်ဒေါ်လာ ၁၀ သန်း<br>(US$/သန်း)<br>မတည်ငွေ ၃.၀၀၀<br>ချေးငွေ ၇.၀၀၀<br>**စုစုပေါင်း** ၁၀.၀၀၀<br>(ချေးငွေ အမေရိကန်ဒေါ်လာ ၇ သန်းအား ပြည်တွင်းရှိ နိုင်ငံခြား ဘဏ်တစ်ခုခုမှ ချေးယူပြီး ထည့်ဝင်မည် ဖြစ်ပါသည်။) |
| ၇။ | ဝန်ထမ်းအင်အား (ပြည်တွင်း) | - ၇၉၀ ဦး<br>- ၇၉၀ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၆၆,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃,၆၀၀,၀၀၀ ဖြစ်ပါသည်။) |

၈။ ရောင်းချမည့်စနစ်

- ၁၀၀ % ပြည်တွင်းရောင်း

နှစ်စဉ်ထုတ်လုပ်မှု (ပထမနှစ်)

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (kg) | ရောင်းဈေးနှုန်း (ကျပ်/kg) |
|---|---|---|---|
| ၁။ | **Chicken** | | |
| | -9 Pieces Cut | ၃,၃၂၈,၃၆၅ | ၃,၆၅၀ |
| | -10 Piece Cut | ၂,၁၄၂,၄၉၆ | ၃,၂၀၀ |
| | -Chicken Pieces | ၃,၁၄၈,၄၁၂ | ၂,၅၈၅ |
| | -NNY with organ | ၄,၉၀၉,၆၇၆ | ၂,၁၅၀ |
| | -Internal Transfer | ၂,၅၅၅,၃၃၄ | ၂,၆၀၅ |
| | -Organ | ၃,၃၂၃,၁၀၈ | ၁,၁၀၀ |
| ၂။ | **Pork** | ၆,၂၁၀,၀၀၀ | ၃,၇၀၀ |

၉။ အခြားတင်ပြချက်

- ရန်ကုန်တိုင်းဒေသကြီးအစိုးရ၊ ရန်ကုန်မြို့တော် စည်ပင် သာယာရေးကော်မတီ၊ ပြည်သူ့ကျန်းမာရေးနှင့် ဈေးများ လုပ်ငန်းတာဝန်ခံအဖွဲ့ ထုတ်လုပ်ရေးဌာနနှင့် Myanmar C.P.Livestock Co. Ltd.တို့ ချုပ်ဆိုမည့် နှစ်ရှည်မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) ကို တင်ပြထားသည်။

- လုပ်ငန်းဆောင်ရွက်မှုအာမခံငွေအဖြစ် ကျပ်(၅၀.၀၀) သန်းအား စာချုပ်မချုပ်ဆိုမီ ကုမ္ပဏီမှဌာနသို့ ကြိုတင်ပေးသွင်းရမည်ဖြစ်ပြီး လုပ်ငန်းပြီးစီးကြောင်း လက်မှတ်ထုတ်ပေးသည့်နေ့အထိ တရားဝင် အတည်ဖြစ် ကြောင်း ဖော်ပြထားပါသည်။

- မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကုမ္ပဏီမှ ဌာနသို့ ကျပ်(၁၁၆,၀၉၆,၀၀၀)ကို အရစ်သုံးရစ်ခွဲ၍ ပေးသွင်းရမည်ဖြစ်ပြီး ပထမအရစ်အဖြစ် စုစုပေါင်းအာမခံငွေ၏ ၃၀ % ဖြစ်သော ၃၄,၈၂၈,၈၀၀ ကိုလက်မှတ်ရေးထိုးပြီး ရက် (၃၀) အတွင်းတွင် လည်းကောင်း၊ ဒုတိယအရစ်အဖြစ် စုစုပေါင်းအာမခံငွေ၏ ၃၀ % ဖြစ်သော ၃၄,၈၂၈,၈၀၀ ကို (၆) လ အတွင်းတွင် လည်းကောင်း၊ တတိယအရစ်အဖြစ် စုစုပေါင်းအာမခံငွေ၏ ၄၀%ဖြစ်သော ကျပ် ၄၆,၄၃၈,၄၀၀ ကို (၁၈)လ အတွင်းတွင် လည်းကောင်း ပေးသွင်းရမည်။

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - Myanmar C.P. Livestock Co.Ltd. ၏ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများနှင့် နိုင်ငံကူးလက်မှတ်မိတ္တူများကို တင်ပြထားပါသည်။<br>- ဝန်ထမ်းသက်သာချောင်ချိရေးအစီအမံ၊ မီးဘေးကာကွယ်ရေး ဆောင်ရွက်ချက်၊ လုပ်ငန်းခွင်လုံခြုံရေး၊ CSRတို့ကို တင်ပြထားပါသည်။<br>- ငွေရေးကြေးရေးအထောက်အထားအဖြစ် Myanmar C.P. Livestock Co.Ltd. အမည်ဖြင့် မြန်မာနိုင်ငံရှိ Bangkok Bank ဘဏ်တွင် ၃၀-၁၁-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၄,၂၅၀,၄၉၄.၇၇ ရှိကြောင်း တင်ပြထားပါသည်။<br>- မြေအသုံးပြုခွင့်လျှောက်လွှာ ပုံစံ (၇) ပူးတွဲ တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် အမေရိကန် ဒေါ်လာ ၃.၈၇၀သန်း တန်ဖိုးရှိ စက်ပစ္စည်းနှင့် စက်ကိရိယာများနှင့် အမေရိကန်ဒေါ်လာ ၂၉,၄၇၈ တန်ဖိုးရှိ ထုတ်လုပ်မှုဆိုင်ရာ သွင်းကုန်များကို ပြည်ပမှ တင်သွင်းမည် ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ISIC 1010 တွင် အကျုံးဝင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက် နေ့စွဲပါ အမိန့်ကြော်ငြာစာ အမှတ်- ၁၃/၂၀၁၇ အရ ဦးစားပေး မြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှု ကဏ္ဍ စာရင်းတွင် ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း) မြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်ပါ၍ ဖွံ့ဖြိုး တိုးတက်မှုဇုန် (၃) တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၂/ ခ-၀၃၈/၂၀၁၉ ( ၀၀၅ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ Processing of Chicken, Pork and Preserving and Sales of Meat လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ အမှတ်(၂)လမ်း နှင့် အမှတ်(၇)လမ်း (မြို့ရှောင်လမ်း)ထောင့်၊ မစို စိုက်ပျိုးမွေးမြူရေးစခန်းရှိ မြေဧရိယာ (၅၈.၀၄၈) ဧက (၂၃၄၉၁၂.၆၅ စတုရန်းမီတာ) တွင် Processing of Chicken, Pork and Preserving and Sales of Meat လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၊ ပြည်သူ့ကျန်းမာ ရေးနှင့် ဈေးများလုပ်ငန်းတာဝန်ခံအဖွဲ့ ထုတ်လုပ်ရေးဌာနနှင့် Myanmar C.P. Livestock Company Limited တို့ ချုပ်ဆိုမည့် နှစ်ရှည် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) ကို တင်ပြ ထားပါသည်။ စာချုပ်(မူကြမ်း) ပါ အဓိကအချက်များမှာ အောက်ပါတိုင်း ဖြစ်ပါသည်-

(က) မြေငှားရမ်းကာလမှာ ကနဦးသက်တမ်း ၅၀ နှစ်ဖြစ်ပြီး သက်တမ်းတိုး (၁၀)နှစ် ၂ ကြိမ် ဖြစ်ပါသည်။ မြေငှားရမ်းခမှာ တစ်နှစ်လျှင် တစ်စတုရန်းမီတာ အတွက် အမေရိကန်ဒေါ်လာ ၂.၃ ဒေါ်လာနှုန်းဖြင့် အမေရိကန်ဒေါ်လာ ၅၄၀,၃၀၀.၃၉၅ဖြစ်ပါသည်။

(ခ) လုပ်ငန်းဆောင်ရွက်မှုအာမခံငွေအဖြစ် ကျပ်(၅၀.၀၀) သန်းအား စာချုပ်မချုပ်ဆိုမီ ကုမ္ပဏီမှ ဌာနသို့ ကြိုတင်ပေးသွင်းရမည်ဖြစ်ပြီး လုပ်ငန်းပြီးစီးကြောင်း လက်မှတ် ထုတ်ပေးသည့်နေ့အထိ တရားဝင်အတည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

(ဂ) မြေအသုံးချမှုပရီမီယံကြေးအဖြစ် ကုမ္ပဏီမှ ဌာနသို့ ကျပ် ၁၁၆,၀၉၆,၀၀၀ ကို အရစ် သုံးရစ်ခွဲ၍ ပေးသွင်းရမည်ဖြစ်ပြီး ပထမအရစ်အဖြစ် စုစုပေါင်းအာမခံငွေ၏ ၃၀% ဖြစ်သော ၃၄,၈၂၈,၈၀၀ ကိုလက်မှတ်ရေးထိုးပြီး ရက် (၃၀)အတွင်းတွင် လည်းကောင်း၊ ဒုတိယအရစ်အဖြစ် စုစုပေါင်းအာမခံငွေ၏ ၃၀ % ဖြစ်သော ၃၄,၈၂၈,၈၀၀ ကို (၆) လ အတွင်းတွင် လည်းကောင်း၊ တတိယအရစ်အဖြစ် စုစုပေါင်း အာမခံငွေ၏ ၄၀% ဖြစ်သော ကျပ် ၄၆,၄၃၈,၄၀၀ ကို (၁၈) လ အတွင်းတွင် လည်းကောင်း ပေးသွင်းရမည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ပြည်တွင်းမှ ချေးငွေ အမေရိကန်ဒေါ်လာ ၇.၀၀၀ သန်း အပါအဝင် အမေရိကန် ဒေါ်လာ ၁၀.၀၀၀သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | (US$/သန်း) |
|---|---|
| မတည်ငွေ | ၃.၀၀၀ |
| ချေးငွေ | ၇.၀၀၀ |
| **စုစုပေါင်း** | ၁၀.၀၀၀ |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၇၉၀ ဦး ခန့်ထားမည်ဖြစ်သည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၆၆,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃,၆၀၀,၀၀၀ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှာ Processing of Chicken, Pork and Preserving and Sales of Meat လုပ်ငန်းဆောင်ရွက်ပြီး ပြည်တွင်းတွင် ၁၀၀ % ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (kg) | ရောင်းဈေးနှုန်း (ကျပ်/ kg) |
|---|---|---|---|
| **၁။** | **Chicken** | | |
| | -9 Pieces Cut | ၃,၃၂၈,၃၆၅ | ၃,၆၅၀ |
| | -10 Pieces Cut | ၂,၁၄၂,၄၉၆ | ၃,၂၀၀ |
| | -Chicken Pieces | ၃,၁၄၈,၄၁၂ | ၂,၅၈၅ |
| | -NNY with organ | ၄,၉၀၉,၆၇၆ | ၂,၁၅၀ |
| | -Internal Transfer | ၂,၅၅၅,၃၃၄ | ၂,၆၀၅ |
| | -Organ | ၃,၃၂၃,၁၀၈ | ၁,၁၀၀ |
| **၂။** | **Pork** | ၆,၂၁၀,၀၀၀ | ၃,၇၀၀ |

၇။ **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ** မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည် ဖြစ်ကြောင်းသဘောထား ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-က**

၈။ ငွေရေးကြေးရေးအထောက်အထားအဖြစ် Myanmar C.P. Livestock Company Limited အမည်ဖြင့် မြန်မာနိုင်ငံရှိ Bangkok Bank ဘဏ်တွင် ၃၀-၁၁-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၄,၂၅၀,၄၉၄.၇၇ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ တွင်ပါဝင်ပြီး ISIC 1010 တွင်ပါဝင်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ဖွံ့ဖြိုးတိုးတက်မှုဇုန်(၃)၊ ဖွံ့ဖြိုးမှုအသင့်အတင့်ရှိသောဒေသ တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ဃ) စက်ရုံ၌ အလုပ်သမားများအတွက် လုပ်ငန်းခွင်သာယာရေး နှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(င) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၄၀/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

(စ) Myanmar C.P. Livestock Company Limited သို့ငှားရမ်းမည့် မစို စိုက်ပျိုးမွေးမြူရေးစခန်းရှိမြေအား ကော်မတီနှင့် ကုမ္ပဏီနှစ်ဖက် ပူးပေါင်း၍ မြေပြင်ရှိအတိုင်း စိစစ်တိုင်းတာခဲ့ရာ မြေဧရိယာမှာ ၅၈.၀၄၈ ဧက (၂၃၄၉၁၂.၆၅ စတုရန်းမီတာ) ဖြစ်ပါကြောင်းနှင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ ကော်မတီဝင်များ အစည်းအဝေးတွင် တင်ပြအတည်ပြုချက်ရရှိပါက သက်သေခံမြေပုံရေးကူး၍ ထပ်မံပေးပို့သွားမည် ဖြစ်ပါကြောင်း ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ Processing of Chicken, Pork and Preserving and Sales of Meat လုပ်ငန်း အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)
၆

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ တွင်ပါဝင်ပြီး ISIC 1010 တွင်ပါဝင်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ဖွံ့ဖြိုးတိုးတက်မှုဇုန်(၃)၊ ဖွံ့ဖြိုးမှုအသင့်အတင့်ရှိသောဒေသ တွင်ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ဃ) စက်ရုံ၌ အလုပ်သမားများအတွက် လုပ်ငန်းခွင်သာယာရေး နှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(င) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၄၀/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ ရခိုင်နူန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ Processing of Chicken, Pork and Preserving and Sales of Meat လုပ်ငန်း အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၁၀၁/ MIC (OSS)/ ၁၁(၇၅/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဒီဇင်ဘာလ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MIC / 431 / 21/12

အကြောင်းအရာ။ **Myanmar CP Livestock Company Limited မှ ကြက်သားသန့်စင်ခြင်း၊ ဝက်သားသန့်စင်ခြင်းနှင့် အစားအစာပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄-၁၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၃၈/ ၂၀၁၈(၅၇၆)

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်မြန်မာနိုင်ငံတွင်Myanmar CP Livestock Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း) မြို့နယ်၊ အမှတ်- ၂ လမ်းနှင့်အမှတ်- ၇ လမ်းထောင့်၊ မစိ စိုက်ပျိုးမွေးမြူရေးစခန်းရှိ စုစုပေါင်းမြေဧရိယာ ၅၇.၄၃၁ ဧက (၂၃၂,၄၁၅.၂၂ စတုရန်းမီတာ) ကိုငှားရမ်း၍ ကြက်သားသန့်စင်ခြင်း၊ ဝက်သားသန့်စင်ခြင်းနှင့် အစားအစာပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂)ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂)နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၊ ပြည်သူ့ကျန်းမာရေးနှင့်ဈေးများလုပ်ငန်းတာဝန်ခံအဖွဲ့၊ ထုတ်လုပ်ရေးဌာနနှင့် Myanmar CP Livestock Co., Ltd. တို့အကြား ချုပ်ဆိုမည့် နှစ်ရှည်မြေငှားရမ်းခြင်း သဘောတူစာချုပ်ဖော်ပြပါရှိပါကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအားမြေ (၂၃၂,၄၁၅.၂၂ စတုရန်းမီတာ) ပေါ်တွင် Production building၊ Facility building and Office၊ Landscape Road and Fence၊ Resident and Compound နှင့် Health Neutral Park and Local Market တို့ တည်ဆောက်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် ကုန်ကြမ်း ကြက် ၂၁,၀၉၄.၉၉ တန်နှင့် ဝက် ၆၉၀၀ တန်ကို အသုံးပြုကာ ပြုပြင်ပြီးအသားအဖြစ် ကြက် ၁၉,၄၀၇.၃၉ တန်နှင့် ဝက် ၆,၂၁၀ တန်ထုတ်လုပ်မည်ဖြစ်ပြီး (၁၀) နှစ်အတွင်း ကုန်ကြမ်းအဖြစ် ကြက် ၇၅,၉၃၂.၃၆၇ တန်နှင့် ဝက် ၄၉,၁၁၉.၂၅၆ တန်ကို အသုံးပြုကာ ပြုပြင်ပြီးအသားအဖြစ် ကြက် ၆၉,

၈၅၇.၇၇၇ တန်နှင့် ဝက် ၄၄,၁၁၇.၃၃၀ တန် အထိ တိုးမြှင့်ထုတ်လုပ် ရောင်းချသွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေသန့်စင်ခြင်း စနစ်ကိုလည်း တည်ဆောက်တပ်ဆင်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myanmar CP Livestock Company Limited မှ ကြက်သားသန့်စင်ခြင်း၊ ဝက်သားသန့်စင်ခြင်းနှင့် အစားအစာပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသား ပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသား အမှုန်၊ အမွှား၊ ဖုန်မှုန်များကြောင့် ပတ်ဝန်းကျင်လေထုနှင့်မြေထုညစ်ညမ်းခြင်း၊

(ခ) အအေးခန်းစက်ရုံတွင် Processing Washing & Peeling Room များတွင် ရေအသုံးပြုဆောင်ရွက်မည်ဖြစ်ရာ အဆိုပါရေများကြောင့် ပတ်ဝန်းကျင် ရေထုညစ်ညမ်းနိုင်ခြင်း၊ စက်ရုံမှ ထွက်ရှိလာမည့် ကြက်၊ ဝက်တို့၏ အသား အပိုင်း/အစအနများကို စနစ်တကျ စွန့်ပစ်ခြင်းမပြုပါက ပတ်ဝန်းကျင် မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းစေနိုင်ခြင်း၊

(ဂ) အသားများကို သိုလှောင်ခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်းနှင့် စွန့်ပစ်ပစ္စည်းများမှ ထွက်ရှိလာနိုင်သော အနံ့အသက်များကြောင့် ပတ်ဝန်းကျင် လေထုညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်း။

(ဃ) မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ညွှန်ကြားချက်နှင့်အညီ စနစ်တကျ ဆေးဖြန်းခြင်း၊ လိုအပ်သည့် အစီအမံများ စီစဉ်ဆောင်ရွက်ထားခြင်းမရှိပါက မွေးမြူရေးကြက်နှင့် ဝက်များတွင် ဖြစ်ပွားတတ်သည့် တုတ်ကွေးရောဂါကြောင့် ကပ်ရောဂါအသွင် ကူးစက်ရောဂါများ ဖြစ်ပွားစေနိုင်ခြင်း၊ အလုပ်သမားများနှင့်ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar CP Livestock Company Limited မှ ကြက်သားသန့်စင်ခြင်း၊ ဝက်သားသန့်စင်ခြင်းနှင့်အစားအစာပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ ကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း

ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
ပြည်သူ့ကျန်းမာရေးနှင့်ဈေးများလုပ်ငန်းတာဝန်ခံအဖွဲ့
ထုတ်လုပ်ရေးဌာန

စာအမှတ်၊ ၃၆ / ၀၀၂၇ / စည်ပင်-ထလရ
ရက် စွဲ၊ ၂၀၁၉ ခုနှစ် ဇန်နဝါရီ လ ၈ ရက်

သို့

အဆိုပြုချက်စိစစ်ရေးအဖွဲ့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် (၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **Myanmar C.P Livestock Company Limited မှ ကြက်သားသန့်စင်ခြင်း၊ ဝက်သားသန့်စင်ခြင်းနှင့် အစားအစာပြုပြင်ထုတ်လုပ်ခြင်းအတွက် ကော်မတီပိုင်မြေငှားရမ်းခြင်း**

ရည် ညွှန်း ချက်။ ၁၃ – ၉ –၂၀၁၈ ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၄/၂၀၁၈)၊ဆုံးဖြတ်ချက်အပိုဒ် (၃)

၁။ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ ပြည်သူ့ကျန်းမာရေးနှင့်ဈေးများလုပ်ငန်းတာဝန်ခံအဖွဲ့၊ ထုတ်လုပ်ရေးဌာနမှ စီမံခန့်ခွဲလျှက်ရှိသော ဒဂုံမြို့သစ် (အရှေ့ပိုင်း)မြို့နယ်၊ အမှတ် (၂)လမ်းနှင့် အမှတ် (၇) လမ်းထောင့်ရှိ မစိုစိုက်ပျိုးမွေးမြူရေးစခန်း မြေဧရိယာ ၅၈.၀၄၈ ဧကအား ရည်ညွှန်းပါအစည်းအဝေးဆုံးဖြတ်ချက်အရ Myanmar C.P Livestock Company Limited သို့ ကြက်သားသန့်စင်ခြင်း၊ ဝက်သားသန့်စင်ခြင်းနှင့် အစားအစာပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် နှစ်ရှည် ၅၀+၁၀+၁၀ ငှားရမ်းနိုင်ရေး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်လျက်ရှိပါသည်။

၂။ အဆိုပါ Myanmar C.P Livestock Company Limited သို့ငှားရမ်းမည့် မစိုစိုက်ပျိုးမွေးမြူရေးစခန်းရှိမြေအား ကော်မတီနှင့်ကုမ္ပဏီနှစ်ဖက်ပူးပေါင်း၍ မြေပြင်ရှိအတိုင်း စိစစ် တိုင်းတာခဲ့ရာ မြေဧရိယာမှာ ၅၈.၀၄၈ ဧက (၂၃၄၉၁၂.၆၅ စတုရန်းမီတာ)ဖြစ်ပါကြောင်းနှင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ ကော်မတီဝင်များအစည်းအဝေးတွင် တင်ပြအတည်ပြုချက်ရရှိပါက သက်သေခံမြေပုံရေးကူး၍ ထပ်မံပေးပို့ သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

ဌာနမှူး (ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

မျှောစာတွဲ/ရုံးလက်ခံ

Replt M-3/8

ရက်စွဲ။ ၈-၁-၂၀၁၉

Myanmar C.P. Livestock Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှု မှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | | ၁၁-၁၂-၂၀၁၈ | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၄၀/၂၀၁၈ (၁၇-၁၂-၂၀၁၈) | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန(One Stop Service) | ၂၀-၁၂-၂၀၁၈ | ၂၄-၁၂-၂၀၁၈ | |
| ၄ | အဆိုပြုချက်အပေါ်ပြင်ဆင်တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း | ၂၄-၁၂-၂၀၁၈ | ၈-၁-၂၀၁၉ | PAT ဆုံးဖြတ်ချက် အကြောင်းကြား ပါသည်။ |
| ၅ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | ၈-၁-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁/၂၀၁၉ (၁၁-၁-၂၀၁၉) | | |
| ၇ | ခွင့်ပြုမိန့်ထုတ်ပေးခြင်း | ၁၁-၁-၂၀၁၉ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **( ၃၀ ) ရက်** | | |